ကုမ္ပဏီအမည် - Air Products(Myanmar) Co., Ltd.

လုပ်ငန်း - Refining, Distribution and Sale of Oxygen, Nitrogen, Carbon Dioxide, Argon လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိ သည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၁-၉-၂၀၁၇ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၂၃/၂၀၁၇ သို့တင်ပြခြင်း | ၁၁-၉-၂၀၁၇ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၁၉-၉-၂၀၁၇ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း**<br>(က)သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၁၈-၅-၂၀၁၇ | ၂၉-၅-၂၀၁၇ | ကုမ္ပဏီမှ စုံစမ်းမေးမြန်းလျှောက်ထားလွှာဖြင့် တင်ပြလာမှုအား သဘောထားတောင်းခံခဲ့ခြင်း ဖြစ်ပါသည်။ |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၁၉-၉-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၀-၉-၂၀၁၇ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း(၁၃/၂၀၁၇) MIC | ၂၅-၉-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၂၅ ရက်** | | | |

ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Air Products(Myanmar) Co., Ltd. တည်ထောင်၍
Refining, Distribution and Sale of Oxygen, Nitrogen, Carbon Dioxide, Argon လုပ်ငန်း
ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Air Products (Myanmar) Co., Ltd. | Refining, Distribution and Sale of Oxygen, Nitrogen, Carbon Dioxide, Argon လုပ်ငန်း | ၂၃/၂၀၁၇ ၁၁-၉-၂၀၁၇ | (က)လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။<br>(ခ) မြေငှားစာချုပ်(မူကြမ်း) ပြင်ဆင်တင်ပြရန်။<br>(ဂ) CSR အစီအစဉ် တင်ပြရန်။ | ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး | |

ကုမ္ပဏီအမည် - **Air Products (Myanmar) Co., Ltd.**

အဖွဲ့အစည်းပုံသဏ္ဍာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - Refining, Distribution and Sale of Oxygen, Nitrogen, Carbon Dioxide, Argon လုပ်ငန်း

တည်နေရာ - မြေကွက်အမှတ် (၅)၊ မြေတိုင်းရပ်ကွက်အမှတ် (၁၄၃/၁)၊ အမှတ်-A(08)၊ ကျန်စစ်သားလမ်း၊ ကျန်စစ်သားရိပ်မွန် စက်မှုဇုန်၊ ဒဂုံမြို့သစ် (တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - US$ ၁.၂၀ သန်း

ဝန်ဆောင်မှုပေးမည့်စနစ် - ပြည်တွင်းဝန်ဆောင်မှု ၁၀၀%

လုပ်ငန်းသက်တမ်း - ကနဦး ၁၀ နှစ် ( သက်တမ်းတိုး ၁၀ နှစ်၊ နှစ်ကြိမ်)

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည် -

| စဥ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၀.၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၆၅.၀၀ သန်း | |
| ၄ | ဝင်ငွေခွန် | | ကျပ် ၁၉၉.၄၈ သန်း |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၆.၀၄ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ် (၄၈) သိန်း ကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း (၁၅) ဦး |
| ၇ | မြေနှင့်အဆောက်အဦး ငှားရမ်းခရငွေ | | ကျပ် ၁၄၁.၉၂ သန်း |
| ၈ | CSR (၁ %) | | ကျပ် ၅.၉၉ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၂၃ ဦး/ ပြည်ပ ၅ ဦး |
| | | | ပြည်တွင်းလုပ်သား (၂၃) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက် အကူပြုစေပါသည်။ |
| | **စုစုပေါင်း** | ကျပ် ၆၈.၀၀ သန်း | ကျပ် ၃၆၃.၉၃ သန်း |
| | | ၁း၅ | |

# ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Air Products (Myanmar) Co., Ltd. တည်ထောင်၍ Refining, Distribution and Sale of Oxygen, Nitrogen, Carbon Dioxide, Argon လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Air Products (Myanmar) Co., Ltd. |
| ၂။ | ကမကထပြုသူအမည် | - Mr. Tham Kwong Wing |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>UPC Resources Pte.Ltd. (စင်ကာပူ) ၇၅ %<br>Sun Gas Co., Ltd. (မြန်မာ) ၂၅ % |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - Refining, Distribution and Sale of Oxygen, Nitrogen, Carbon Dioxide, Argon |
| ၅။ | လုပ်ငန်းနေရာ/<br><br><br>အဆောက်အအုံ အကျယ်အဝန်း<br>အဆောက်အအုံပိုင်ရှင်<br>ငှားရမ်းကာလ<br>ငှားရမ်းခ(နှစ်စဉ်) | - မြေကွက်အမှတ်(၅)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၃/၁)၊ အမှတ်-A-08၊ ကျန်စစ်သားလမ်း၊ ကျန်စစ်သားရိပ်မွန် စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး<br>- (၄၈၀.၁၇) စတုရန်းမီတာရှိ အဆောက်အအုံ<br>- K&M Capital Co., Ltd.<br>- ကနဦး ၅ နှစ်<br>- တစ်စတုရန်းမီတာလျှင်( US$ ၇၅.၇၈) |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်မည့်အမျိုးအစား | **- အမေရိကန်ဒေါ်လာ ၁.၂ သန်း** |

| | မြန်မာ(၂၅%) US$(သန်း) | နိုင်ငံခြား(၇၅%) US$(သန်း) | စုစုပေါင်း US$(သန်း) |
|---|---|---|---|
| ငွေသား | ၀.၀၅ | ၀.၁၅ | ၀.၂၀ |
| စက်နှင့်စက်ပစ္စည်း | ၀.၂၅ | ၀.၇၅ | ၁.၀၀ |
| **စုစုပေါင်း** | **၀.၃၀** | **၀.၉၀** | **၁.၂၀** |

| | | |
|---|---|---|
| ၇။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၈။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၂၃ ဦး(ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံး လစာ မှာ US$ ၁၅၀ ဖြစ်ပြီး၊ အမြင့်ဆုံးလစာ မှာ US$ ၁,၅၀၀ ဖြစ်ပါသည်။)<br>- ပြည်ပ ၅ ဦး( ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ မှာ US$ ၁,၅၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးလစာမှာ US$ ၃,၀၀၀ ဖြစ်ပါသည်။ |
| ၉။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် UPC Resources Pte Ltd. အမည်ဖြင့် UOB Bank ၌ (၃၁-၇-၂၀၁၇) ရက်စွဲဖြင့် US$ ၇၃,၉၂၆.၈၆ ရှိကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၀,၀၀၀ kVA |
| ၁၁။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုထားပါသည်။ |
| ၁၂။ | အခြားတင်ပြချက်များ | - K& M Capital Co., Ltd. နှင့် Air Products (Myanmar) Co., Ltd. တို့၏ မြေနှင့်အဆောက်အအုံငှားရမ်းခြင်း စာချုပ် (မူကြမ်း)၊ Air Products (Myanmar) Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံ တင်ကဒ်(ယာယီ)၊ MOA နှင့် AOA ၊ UPC Resources Pte.Ltd နှင့်Sun Gas Co., Ltd. တို့၏ JV Agreement (မူကြမ်း) ၊ အခွန်ကင်းလွတ်ခွင့် လျှောက်ထားလွှာတို့ကို တင်ပြထားပါသည်။<br>- UPC Resources Pte.Ltd. ၏ Financial Statement အား တင်ပြထားပါသည်။ |
| ၁၃။ | စိစစ်တင်ပြချက် | (က) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဖြင့်သာ ဆောင်ရွက်ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပြီး အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်အတွက် အကျုံးဝင်သည့် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်းမရှိပါ ။<br>(ခ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (EIA) ရေးဆွဲရန် လိုအပ်သောကြောင့် ကော်မရှင်ခွင့်ပြုမိန့် ဖြင့် ဆောင်ရွက်ရမည့် လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။<br>(ဂ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။<br>(ဃ) ပြည်ပမှ US$(၁.၀၀)သန်း တန်ဖိုးရှိစက်ပစ္စည်းများ တင်သွင်းမည်ဖြစ်ပါသည်။<br>(င) Yangon Industrial Gas Co., Ltd. အား ခွင့်ပြုမိန့် အမှတ်(၁၂၄၂/၂၀၁၇) ဖြင့် မြေတိုင်းရပ်ကွက်အမှတ်၁၄၃/၁၊ မြေကွက်အမှတ်-၃၇၊ ကျန်စစ်သားရိမ်မွန်စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး တွင် Production, Marketing and Distribution of Industrial Gas such as Oxygen, Nitrogen, Argon and Carbon Dioxide လုပ်ငန်းကို ခွင့်ပြုထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၅(အ) / ခ-၀၀၇/ ၂၀၁၇(၄၃၁)

ရက်စွဲ၊၂၀၁၇ ခုနှစ် စက်တင်ဘာလ ၂၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Air Products (Myanmar) Co., Ltd. တည်ထောင်၍ Refining, Distribution and Sale of Oxygen, Nitrogen, Carbon Dioxide, Argon လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်္ကာပူနိုင်ငံ UPC Resources Pte. Ltd. မှ ၇၅% နှင့် မြန်မာနိုင်ငံ Sun Gas Co., Ltd. မှ ၂၅% ဖြင့် မြန်မာနိုင်ငံတွင် Air Products (Myanmar) Co., Ltd. တည်ထောင်ပြီး မြေကွက်အမှတ် (၅)၊ မြေတိုင်းရပ်ကွက်အမှတ် (၁၄၃/၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၃/၁)၊ အမှတ်-A(08)၊ ကျန်စစ်သားလမ်း၊ ကျန်စစ်သားရိပ်မွန်စက်မှုဇုန်၊ ဒဂုံမြို့သစ် (တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Refining, Distribution and Sale of Oxygen, Nitrogen, Carbon Dioxide, Argon လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ UPC Resources Pte. Ltd. နှင့် Sun Gas Co., Ltd. တို့၏ မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း စာချုပ်(မူကြမ်း)၊ Sun Gas Co., Ltd. ၏ မှတ်ပုံတင်လက်မှတ်၊ Air Products (Myanmar) Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်ကဒ်(ယာယီ)၊ MOA နှင့်AOA (မူကြမ်း) နှင့် JV agreement(မူကြမ်း) တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး(၁၀) နှစ် နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၂၀ သန်းဖြစ်ပြီး အမေရိကန်ဒေါ်လာ ၁.၀၀ သန်း တန်ဖိုးရှိ လုပ်ငန်းသုံးစက်ပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး မတည်ငွေရင်းအသေးစိတ်အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ထည့်ဝင်မည့် အမျိုးအစား | နိုင်ငံခြား US$(သန်း) | မြန်မာ US$(သန်း) | စုစုပေါင်း US$(သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၀.၁၅ | ၀.၀၅ | ၀.၂၀ |
| (ခ) | စက်နှင့်စက်ကိရိယာ ပစ္စည်း | ၀.၇၅ | ၀.၂၅ | ၁.၀၀ |
| | **စုစုပေါင်း** | ၀.၉၀ | ၀.၃၀ | ၁.၂၀ |

(အမေရိကန် ၁ဒေါ်လာလျှင် ကျပ်၁,၃၀၀ နှုန်းဖြင့် တွက်ချက်ထားပါသည်။)

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၂၃)ဦးနှင့် ပြည်ပဝန်ထမ်း(၅)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၁၅၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၁,၅၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၁,၅၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၃,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ပျမ်းမျှပထမနှစ်တွင် ဝန်ဆောင်မှုပေးမည့် စက်မှုလုပ်ငန်းသုံးဓာတ်ငွေ့ရည်များ၏ ပမာဏနှင့်ရောင်းချနိုင်မည့် ခန့်မှန်းဈေးနှုန်းအား အောက်ပါအတိုင်း တင်ပြထားပါသည်-

| စဉ် | ဝန်ဆောင်မှုပေးမည့်စက်မှုလုပ်ငန်းသုံးဓာတ်ငွေ့ရည် အမျိုးအစား | တစ်တန် ဈေးနှုန်း(US$) | အရေအတွက် (တန်ချိန်) |
|---|---|---|---|
| (က) | Oxygen | ၆၀၀ | ၈၄၀ |
| (ခ) | Carbon Dioxide | ၇၀၀ | ၃၃၆ |
| (ဂ) | Nitrogen | ၆၀၀ | ၁၁၇.၆ |
| (ဃ) | Argon | ၁,၁၀၀ | ၂၀၁.၆ |

၇။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ-က** ဖြင့် တင်ပြထားပါသည်။

၈။ ငွေကြေးအထောက်အထားအဖြစ် UPC Resources Pte. Ltd. အမည်ဖြင့် UOB Bank ၌ (၃၁-၇-၂၀၁၇) ရက်စွဲဖြင့် US$ ၇၃,၉၂၆.၈၆ ရှိကြောင်း အထောက်အထား၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှုဆောင်ရွက်မည့် အစီအစဉ်၊ အလုပ်သမားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိရေးစီမံချက်နှင့် လုပ်ငန်းခွင်သာယာရေး ဆောင်ရွက်မည့် အစီအစဉ်များ တင်ပြ ထားပါသည်။

၉။ အဆိုပြုလုပ်ငန်းအား ၂၀၁၇ ခုနှစ် စက်တင်ဘာ လ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြု ချက် စိစစ်ရေးအဖွဲ့၏ (၂၃/၂၀၁၇ ) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ၂၀၁၇ ခုနှစ် ဧပြီလ လ ၁၀ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ ဖက်စပ်ရင်းနှီးမြှုပ်နှံမှုဖြင့်သာ ဆောင်ရွက်ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် အကျုံးဝင်သည့် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ခြင်း မရှိသည့်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် မရရှိနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

(ဂ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၈ ရက်နေ့တွင် ထုတ်ပြန်ထားသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၆(ဂ) တွင် ပါဝင်ပါသဖြင့် ခွင့်ပြုမိန့်ရယူရန် လိုအပ်သည့် လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

(င) အမေရိကန်ဒေါ်လာ (၁.၀၀) သန်း တန်ဖိုးရှိ စက်နှင့်စက်ပစ္စည်း ကိရိယာများအား ပြည်ပမှတင်သွင်းမည်ဖြစ်ပါသည်။

(စ) Yangon Industrial Gas Co., Ltd. အား မြေတိုင်းရပ်ကွက်အမှတ်၁၄၃/၁၊ မြေကွက်အမှတ်-၃၇၊ ကျန်စစ်သားရိပ်မွန်စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Production, Marketing and Distribution of Industrial Gas such as Oxygen, Nitrogen, Argon and Carbon Dioxide လုပ်ငန်းဆောင်ရွက်ခွင့်အတွက် ခွင့်ပြုမိန့်အမှတ်(၁၂၄၂/၂၀၁၇) ဖြင့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ သို့ဖြစ်ပါ၍ Air Products (Myanmar) Co., Ltd. မှ Refining, Distribution and Sale of Oxygen, Nitrogen, Carbon Dioxide, Argon လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

**ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း**

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | Air Products (Myanmar) Co., Ltd. | (၁)Mr. Tham Kwong Wing PP No. E4360430K | 757, Choa Chu Kang North 5#03-123 Singapore 680757 |
| ၂။ | | (၂) Daw May Pwint Phyu 12/ Ou Ka Ta (N) 177884 | No.12 B, Tharlarwaddy Street, 8Mile, Mayangone Towhship, Yangon Region |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ - ၀၉-၂၆၁၅၈၈၇၄၇

၂။ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်(၁၂) ဘီ၊ သာလ၀တီလမ်း၊ (၈)မိုင်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဒေါ်မေပွင့်ဖြူ(ဒါရိုက်တာ)

၄။ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Air Products (Myanmar) Co., Ltd.

၅။ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁(၁၂၈/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မေလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Sun Gas Company Limited မှ နိုက်ထရိုဂျင်၊ ကာဗွန်ဒိုင်အောက်ဆိုက်၊ အာဂွန် အစရှိသောလုပ်ငန်းသုံး ဂက်စ်များကို ဖြန့်ဖြူးရောင်းချခြင်း၊ သန့်စင်ခြင်း၊ ပါကင် ပြန်ထုတ်၍ ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍သ ဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၅-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ မ-ထွေ/၂၀၁၇ (၂၃၀)

၁။ Sun Gas Company Limited မှ အမှတ် (၈)၊ ကျန်စစ်သားလမ်း၊ ကျန်စစ်သားရိပ်မွန်၊ စက်မှုဇုန်၊ ၁၄၃/၁ ရပ်ကွက်၊ တောင်ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၂၁ ဧက (၈၃၇.၇၀ စတုရန်းမီတာ) တွင် နိုက်ထရိုဂျင်၊ ကာဗွန်ဒိုင် အောက်ဆိုက်၊ အာဂွန်အစရှိသောလုပ်ငန်းသုံးဂက်စ်များကို ဖြန့်ဖြူးရောင်းချခြင်း၊ သန့်စင်ခြင်း၊ ပါကင် ပြန်ထုတ်၍ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်လိုကြောင်း စုံစမ်းမေးမြန်းလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မှ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ၃၁ အရလျှောက်ထားလွှာအား အလုပ်လုပ်ရက် (၁၀) ရက် အတွင်းစိစစ်ပြီး လမ်းညွှန်ချက်ထုတ်ပေးနိုင်ရေးအတွက် မည်သည့်သဘာဝပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက် ဆောင်ရွက်ရမည်ကို စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်း ကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင်အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသောအဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ်ဆောင်ရွက်မည်ဖြစ်ကာတည်ဆောက်ရေးကာလမှာ (၂၄) လဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်း မြေဧရိယာ (၈၃၇.၇၀ စတုရန်းမီတာ) ပေါ်တွင် အထပ် (၂) ထပ်ပါအဆောက်အဦ (၁) လုံးတည်ဆောက်ပြီး ပထမနှစ်တွင် (၁၂၀၀ မက်ထရစ်တန်) မှ နှစ် (၃၀) အတွင်း (၁၃၀၀ မက်ထရစ်တန်)အထိတိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊

(ဂ) လုပ်ငန်းခွင်ဘေးကင်းလုံခြုံရေးအတွက် Safety Training များပေးခြင်း၊ Safety Equipment များပေးခြင်း၊ လုံခြုံရေးနှင့်စပ်လျဉ်း၍ International Industrial Safety Procedure များအတိုင်း လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဃ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်

ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Sun Gas Company Limited မှ နိုက်ထရိုဂျင်၊ ကာဗွန်ဒိုင် အောက်ဆိုက်၊ အာဂွန်အစရှိသောလုပ်ငန်းသုံးဂက်စ်များကို ဖြန့်ဖြူးရောင်းချခြင်း၊ သန့်စင်ခြင်း၊ ပါကင် ပြန်ထုတ်၍ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် စနစ်တကျကိုင်တွယ် ထိန်းသိမ်းခြင်းမပြုပါကလူနှင့်သဘာဝပတ်ဝန်းကျင်အပေါ် ညစ်ညမ်းမှုနှင့် ဆိုးကျိုးများဖြစ်စေနိုင်ခြင်း၊

(ခ) သိုလှောင်ထိန်းသိမ်းမှုစနစ်မမှန်ကန်ခြင်း၊ ပေါ့ဆခြင်း၊ ဓါတ်ငွေ့များ ဖြည့်သွင်း/ထည့်သွင်းရာတွင် လုပ်ငန်းအဆင့်များ မှားယွင်းခြင်း၊ နည်းပညာမှားယွင်းခြင်းနှင့် အခြားသောအကြောင်းတစ်ရပ်ရပ်ကြောင့် လုပ်ငန်းဆောင်ရွက်ရာတွင် အသေးစားပေါက်ကွဲမှုများ၊ အကြီးစားပေါက်ကွဲမှုဖြစ်စဉ်များ ဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ လေထုထဲသို့ ဘေးအန္တရာယ်ဖြစ်စေသည့် ဓါတ်ငွေ့များပျံ့နှံ့ရောက်ရှိနိုင်ခြင်းကြောင့် အနံ့အသက်များထွက်ပေါ်ပြီး ပတ်ဝန်းကျင်လေထုညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် အဆောက်အဦ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရာတွင် အသုံးပြုသည့် ယာဉ်၊ ယန္တရားများမှ စက်သုံးဆီနှင့် အခြားစက်ချောဆီများ ယိုဖိတ်ခြင်း၊ အသံဆူညံခြင်း၊ ဖုန်မှုန့်များ၊ အမှုန့်အမွှား၊ အခိုးအငွေ့များ ထွက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ရှိ လေထု၊ မြေထု ညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Sun Gas Company Limited မှ နိုက်ထရိုဂျင်၊ ကာဗွန်ဒိုင် အောက်ဆိုက်၊ အာဂွန်အစ ရှိသောလုပ်ငန်းသုံးဂက်စ်များကို ဖြန့်ဖြူးရောင်းချခြင်း၊ သန့်စင်ခြင်း၊ ပါကင် ပြန်ထုတ်၍ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသား

တင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ** (EIA) ကို ဆောင်ရွက်ပြီး သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်

ရှက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဈ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

၂၉/၅/၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

၂၉/၅/၁၇

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

# AIR PRODUCTS (MYANMAR) COMPALY LIMITED

## List of Machinery and Equipment ( To be Imported)

| Sr. | Particulars | Qty | Unit Price (US$) | Total Amount |
|---|---|---|---|---|
| 1 | Equipment for filling stations | 1 | 80,000 | 80,000 |
| 2 | Storage Tanks At factory | 6 | 50,000 | 300,000 |
| 3 | Transportation Tank/ Chasis | 4 | 30,000 | 120,000 |
| 4 | Gas Vapouriser | 6 | 5,000 | 30,000 |
| 5 | Gas transfer Pump | 6 | 5,000 | 30,000 |
| 6 | Cylinder testing machine | 1 | 10,000 | 10,000 |
| 7 | Oxygen Analyser | 1 | 15,000 | 15,000 |
| 8 | Gas Analyser | 1 | 25,000 | 25,000 |
| 9 | Gas cylinder/ Dewar | 500 | 100 | 50,000 |
| 10 | Service Vehicle | 2 | 40,000 | 80,000 |
| 11 | Cylinder Delivery Vehicle | 2 | 40,000 | 80,000 |
| 12 | Gas Delivery Lorry | 2 | 80,000 | 160,000 |
| 13 | Forklift | 1 | 20,000 | 20,000 |
| Total Amount | | | | 1,000,000 |